ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက- ၅(လ)/အ-၀၀၅/၂၀၁၈( ၂၉၁ )

ရက်စွဲ၊ ၂၀၁၈ ခုနှစ် စက်တင်ဘာလ ၄ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Min Zar Ni Fisheries Co., Ltd. မှ HFO သုံး Generator များဖြင့် လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်း ကိစ္စ**

၁။ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် Min Zar Ni Fisheries Co., Ltd. မှ ဦးပိုင်အမှတ်- ၁/၂၆၅၊ ၂/၂၆၅၊ ကွင်းအမှတ်(၂၃၆)၊ အိုးလုပ်ပြင်ရပ်၊ မြိတ်တောင်ကျေးရွာအုပ်စု၊ မြိတ်မြို့နယ်၊ တနင်္သာရီတိုင်းဒေသကြီးရှိ စုစုပေါင်း မြေ ၁.၆၈ ဧက တွင် HFO သုံး Generator များဖြင့် လျှပ်စစ်ဓာတ်အား ထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကော်မရှင်သို့ အတည်ပြုလျှောက်ထားလွှာ တင်ပြလာပါသည်။

၂။ အတည်ပြုလျှောက်ထားလွှာနှင့်အတူ Min Zar Ni Fisheries Co., Ltd. ၏ ကုမ္ပဏီ ဖွဲ့စည်းမှတ်ပုံတင်လက်မှတ်၊ သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်းနှင့် လုပ်ငန်းဆောင်ရွက်မည့် နေရာအတွက် Layout Plan အား တင်ပြထားပါသည်။

၃။ ထွက်ရှိလာမည့် လျှပ်စစ်ဓာတ်အားကို အင်းလေးမြိုင် စက်မှုဇုန်အတွင်းရှိ စက်ရုံများသို့ လျှပ်စစ်ဓာတ်အား ဖြန့်ဖြူးရေးလုပ်ငန်း ဆောင်ရွက်ပေးရန်အတွက် မင်းဇာနည်ရေလုပ်ငန်း ကုမ္ပဏီလီမိတက်သို့ လုပ်ငန်းအပ်နှံသည့် သဘောတူစာချုပ်(Assignment Contract by Mutual Consent) ကို တင်ပြထားပါသည်။

၄။ တည်ဆောက်ရေးကာလမှာ ၃ လ ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၅.၄၈၉ သန်း အပါ အဝင် ကျပ် ၉,၅၆၉.၃၁ သန်းဖြစ်ပြီး မတည်ငွေရင်း ထည့်ဝင်မှုများမှာ တစ်ဖက်ပါအတိုင်းဖြစ် ပါသည်-

| **ထည့်ဝင်သည့်အမျိုးအစား** | **စုစုပေါင်းကျပ်(သန်း)** |
|---|---|
| ငွေသား | ၁၀၀.၀၀ |
| မြေတန်ဖိုး | ၂၀၀.၀၀ |
| စက်ပစ္စည်း | ၈,၈၁၉.၃၁ (US$ ၅.၄၈၉ သန်း အပါအဝင်) |
| အဆောက်အဦ | ၄၅၀.၀၀ |
| **စုစုပေါင်း** | **၉,၅၆၉.၃၁** |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း ၂၀ ဦး ခန့်ထားမည်ဖြစ်ပြီး ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၂,၀၀၀,၀၀၀ ဖြစ်ပါသည်။

၇။ လုပ်ငန်းမှထွက်ရှိသော လျှပ်စစ်ဓာတ်အားကို ပြည်တွင်းတွင် ၁၀၀% ရောင်းချမည်ဖြစ်ပါသည်။ လျှပ်စစ်ဓာတ်အား(ပထမနှစ်)တွင် ကီလိုဝပ်နာရီ စုစုပေါင်း ၈,၆၄၀,၀၀၀ ထုတ်လုပ်မည်ဖြစ်ပြီး ဓာတ်အား တစ်ယူနစ်လျှင် ၂၅၀ ကျပ်နှုန်းဖြင့် ရောင်းချမည်ဖြစ်ပါသည်။

၈။ ငွေကြေးအထောက်အထားအဖြစ် Min Zar Ni Fisheries Co., Ltd. အမည်ဖြင့် AYA Bank ၌ ၂၁-၈-၂၀၁၈ ရက်နေ့တွင် ကျပ် ၁၀၁,၃၃၅,၈၁၁.၃၆ ရှိကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၉။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) အလုပ်သမားများအတွက် သက်သာချောင်ချိရေးအစီအစဉ်များ၊ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်နှင့်Corporate Social Responsibility (CSR) အစီအစဉ်များကိုလည်း တင်ပြထားပါသည်။

(ဂ) မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် အဆိုပြုလုပ်ငန်း အမျိုးအစား နှင့် အလားတူလုပ်ငန်းဖြစ်သည့် အသေးစား လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း ၂ ခု အနေဖြင့် မွန်ပြည်နယ်တွင် မြတ်သူရစက်မှုလက်မှု ကုမ္ပဏီလီမိတက်နှင့် အရှေ့တောင် အထွေထွေ စွမ်းအင်နှင့်လျှပ်စစ် ကုမ္ပဏီလီမိတက်တို့အား လည်းကောင်း၊ ကရင်ပြည်နယ်တွင် Green Alliance Energy Co., Ltd. အားလည်းကောင်း ကော်မရှင်မှ အတည်ပြုမိန့် ထုတ်ပေးခဲ့ပြီးဖြစ်ပါသည်။

## ဆုံးဖြတ်ရန်အချက်

၁၀။ Min Zar Ni Fisheries Co., Ltd. မှHFO သုံး Generator များဖြင့် လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းကိုစွနှင့်စပ်လျဉ်း၍ အတည်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

အကြောင်းအရာ။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Min Zar Ni Fisheries Co., Ltd. မှ HFO သုံး Generator များဖြင့် လျှပ်စစ်ဓာတ်အားထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Min Zar Ni Fisheries Co., Ltd. |
| | ရင်းနှီးမြှုပ်နှံသူ | - ဦးညီမြင်း |
| | ရင်းနှီးမြှုပ်မှုပုံသဏ္ဌာန် | - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - HFO သုံး Generator များဖြင့် လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - ဦးပိုင်အမှတ်-၁/၂၆၅၊ ၂/၂၆၅၊ ကွင်းအမှတ်(၂၃၆)၊ အိုးလုပ်ပြင်ရပ်၊ မြိတ်တောင်ကျေးရွာအုပ်စု၊ မြိတ်မြို့နယ်၊ တနင်္သာရီတိုင်းဒေသကြီးရှိ စုစုပေါင်း မြေ ၁.၆၈ ဧက |
| ၃။ | မြေပိုင်ရှင် | - မင်းဇာနည်ရေလုပ်ငန်းကုမ္ပဏီလီမိတက် |
| | မြေအကျယ်အဝန်း | - ၁.၆၈ ဧက |
| ၄။ | တည်ဆောက်မှုကာလ | - ၃ လ |
| ၅။ | စုစုပေါင်း<br>မတည်ငွေရင်းပမာဏ | - ကျပ် ၉,၅၆၉.၃၁ သန်း(အမေရိကန်ဒေါ်လာ ၅.၄၈၉ သန်း အပါအဝင်) |
| | **ထည့်ဝင်မည့်အမျိုးအစား** | **စုစုပေါင်း ကျပ်(သန်း)** |
| | ငွေသား | ၁၀၀.၀၀ |
| | မြေတန်ဖိုး | ၂၀၀.၀၀ |
| | စက်ပစ္စည်း | ၈,၈၁၉.၃၁ (US$ ၅.၄၈၉ သန်းအပါအဝင်) |
| | အဆောက်အဦ | ၄၅၀.၀၀ |
| | **စုစုပေါင်း** | **၉,၅၆၉.၃၁** |
| ၆။ | ဝင်ငွေရရှိမှု | **ထုတ်လုပ်မည့် လျှပ်စစ်ဓာတ်အား (kWh/year)** \| **ဈေးနှုန်း (Kyats/ kWh)** \| **ရရှိမည့်ဝင်ငွေ Kyats(million)** |
| | | ၈,၆၄၀,၀၀၀ \| ၂၅၀ \| ၂,၁၆၀ |
| ၇။ | ရောင်းချမည့်နည်းစနစ် | - ပြည်တွင်း (၁၀၀%) |

| | | |
|---|---|---|
| ၈။ | ဝန်ထမ်းခန့်ထားမှု | **ပြည်တွင်း ပြည်ပ**<br>ဦးရေ ၂၀ ဦး -<br>အနိမ့်ဆုံးလစာ ကျပ် ၁၅၀,၀၀၀<br>အမြင့်ဆုံးလစာ ကျပ် ၂,၀၀၀,၀၀၀ |
| ၉။ | ငွေကြေးအထောက်အထား | - ငွေကြေးအထောက်အထားအဖြစ် Min Zar Ni Fisheries Co., Ltd. အမည်ဖြင့် AYA Bank ၌ ၂၁-၈-၂၀၁၈ ရက်နေ့တွင် ကျပ် ၁၀၁,၃၃၅,၈၁၁.၃၆ ရှိကြောင်း တင်ပြထားပါသည်။ |
| ၁၀။ | အခြားတင်ပြချက် | -အတည်ပြုလျှောက်ထားလွှာနှင့်အတူ Min Zar Ni Fisheries Co., Ltd. ၏ ကုမ္ပဏီ ဖွဲ့စည်းမှတ်ပုံတင်လက်မှတ်၊ သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်း နှင့် လုပ်ငန်း ဆောင်ရွက်မည့်နေရာအတွက် Layout Plan အား တင်ပြထားပါသည်။<br><br>-လုပ်ငန်းဆောင်ရွက်မည့် တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်မြို့နယ်၊ မြိတ်တောင်ကျေးရွာအုပ်စု၊ အိုးလုပ်ပြင်ရပ်၊ ကွင်းအမှတ်(၂၃၆)၊ ဦးပိုင်အမှတ် (၁/၂၆၅) ရှိ မြေဧရိယာ ၀.၈၄ ဧကနှင့် ဦးပိုင်အမှတ် (၂/၂၆၅) ရှိ မြေဧရိယာ ၀.၈၄ ဧက အတွက် နှစ် ၃၀ ဂရန်များအား တင်ပြထားပါသည်။<br><br>- ထွက်ရှိလာမည့်လျှပ်စစ်ဓာတ်အားကို အင်းလေးမြိုင် စက်မှုဇုန်အတွင်းရှိ စက်ရုံများသို့ လျှပ်စစ်ဓာတ်အား ဖြန့်ဖြူးရေး လုပ်ငန်းဆောင်ရွက်ပေးရန်အတွက် မင်းဇာနည်ရေလုပ်ငန်း ကုမ္ပဏီလီမိတက်သို့ လုပ်ငန်းအပ်နှံသည့် သဘောတူစာချုပ် (Assignment Contract by Mutual Consent) ကို တင်ပြထားပါသည်။<br>-ကုမ္ပဏီမှ အင်းလေးမြိုင် စက်မှုဇုန်အတွင်းရှိ စက်ရုံများသည် ကိုယ်ပိုင် generator များဖြင့် လျှပ်စစ်ဓာတ်အားကို အသုံးပြုနေရသဖြင့် ဆီဈေးကြီးမြင့်မှုအရ ကုန်ထုတ်လုပ်မှုစရိတ်တိုးမြင့်ရကြောင်း၊ ကုန်ထုတ်လုပ်မှုစရိတ် လျှော့ချနိုင်ရန်အတွက် ဈေးနှုန်းသက်သာသော HFO လောင်စာဆီသုံး generators များဖြင့် လျှပ်စစ်ဓာတ်အား ဖြန့်ဖြူးပေးရန် ရည်ရွယ်ခြင်းဖြစ်ကြောင်း၊ National grid line ရောက်ရှိလာပါက လျှပ်စစ်နှင့်စွမ်းအင် ဝန်ကြီးဌာန၊ |

| | | |
|---|---|---|
| | | လျှပ်စစ်ဓာတ်အား ဖြန့်ဖြူးရေး လုပ်ငန်း၏ ညွှန်ကြားချက်များအတိုင်း လိုက်နာ ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၁။ | စိစစ်တင်ပြချက် | -ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေ နှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။<br>-အလုပ်သမားများအတွက် လုပ်ငန်းခွင်ဘေးကင်းရေးနှင့် သက်သာချောင်ချိရေး ဆောင်ရွက်မည့် အစီအစဉ်များ၊ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်နှင့် Corporate Social Responsibility (CSR) အစီအစဉ်များကိုလည်း တင်ပြထားပါသည်။ |